ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မကွေးမြို့

စာအမှတ်၉/၂-၁/၂၀( ၁၈၆၆ )ဦး(အပရ)
ရက်စွဲ ၂၀၂၀ပြည့်နှစ်၊ဇန်နဝါရီလ ၂၀ ရက်

သို့

ပြည်ထောင်စုအစိုးရအဖွဲ့
နေပြည်တော်

အကြောင်းအရာ။ အသေးစားရေနံချက်လုပ်ငန်း (Mini Refinery)များ ဆောင်ရွက်ထားရှိမှုအခြေအနေတင်ပြခြင်းကိစ္စ

၁။ မကွေးတိုင်းဒေသကြီးအတွင်း တရားမဝင်ရေနံချက်ဖိုများမရှိစေရေး၊ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ တရားဝင်တူးဖော်ခွင့်ပြုသည့် ရေနံလက်ယက်တွင်းတိမ်များမှ ထွက်ရှိလာသော ရေနံစိမ်းများအား တိုင်းဒေသကြီးအတွင်း တရားဝင်ချက်လုပ်နိုင်ရန် ခွင့်ပြုပေးနိုင်ရေး၊ ဒေသအတွင်း အသေးစားစက်မှုလုပ်ငန်းဖွံ့ဖြိုးရေး၊ အလုပ်အကိုင်အခွင့်အလမ်းများရရှိရေး၊ သယ်ယူပို့ဆောင်စရိတ်သက်သာစေရေး၊ ဒေသတွင်းစက်သုံးဆီဖူလုံစွာနှင့် ဈေးနှုန်းချိုသာစွာသုံးစွဲနိုင်ရေးတို့အတွက် အသေးစားရေနံချက်လုပ်ငန်း(Mini Refinery)ဆောင်ရွက်နိုင်ရန် တိုင်းဒေသကြီးရေနံချက်စက်ရုံ မြေနေရာချထားပေးရေးကော်မတီအား မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့ သယံဇာတ၊ သဘာဝပတ်ဝန်းကျင်၊ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးမှ နာယကအဖြစ်ပါဝင်ပြီး အဖွဲ့ဝင် (၁၄)ဦးဖြင့် ဖွဲ့စည်းထားရှိခဲ့ပါသည်။

၂။ မကွေးတိုင်းဒေသကြီးအတွင်း အသေးစားရေနံချက်လုပ်ငန်း (Mini Refinery) ဆောင်ရွက်နိုင်ရန်အတွက် မကွေးတိုင်းဒေသကြီး ပခုက္ကူခရိုင်၊ ပခုက္ကူမြို့နယ်၊ ချောက်ကန်ကျေးရွာအုပ်စု ကွင်းအမှတ်(၃၅၈/၁၈၉၆)ရှိ မြေလွတ်မြေရိုင်း(၃၉၄)ဧကအား တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် မြေလွတ်မြေရိုင်းလုပ်ကိုင်ခွင့်ရရှိရန် မြေလွတ်မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲမှုဗဟိုကော်မတီသို့လျှောက်ထားဆောင်ရွက်ခဲ့ပြီးအဆိုပါမြေများအနက်မှ မြေ(၂၀၀)ဧကခန့်တွင် အသေးစားရေနံချက်လုပ်ငန်း (Mini Refinery)များ တည်ဆောက်ရန်လျာထားဆောင်ရွက်ခဲ့ပါသည်။

၃။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းမှ အသေးစားရေနံချက်လုပ်ငန်း (Mini Refinery)လုပ်ကိုင်လိုသူများ လိုင်စင်လျှောက်ထားနိုင်ကြောင်း ကြေးမုံသတင်းစာတွင်(၁၂.၉.၂၀၁၈)ရက်နေ့၌ ကြော်ငြာခဲ့ရာ လုပ်ငန်းဆောင်ရွက်ရန် လူပုဂ္ဂိုလ်/ ကုမ္ပဏီ (၂၆)ခုမှ

မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ လျှောက်ထားလာခဲ့ကြပါသည်။ အဆိုပါလူပုဂ္ဂိုလ်/ကုမ္ပဏီများမှ အမှန်တကယ် အလုပ်လုပ်နိုင်ပြီး အချက်အလက်များပြည့်စုံစွာတင်ပြထားရှိသည့် ကုမ္ပဏီ(၁၀)ခုအား မကွေးတိုင်းဒေသကြီးအစိုးရ အဖွဲ့အစည်းအဝေး အမှတ်စဉ်(၉/၂၀၁၉)ဆုံးဖြတ်ချက် အပိုဒ်(၂၆၇) အရ ကုမ္ပဏီ(၁၀)ခု၏ အချက်အလက်များအား ၊ လျှောက်လွှာများနှင့်အတူ လျှပ်စစ်နှင့်စွမ်းအင် ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းသို့ ထောက်ခံတင်ပြခဲ့ပါသည်။

၄။ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်းသည် မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ တင်ပြလာသည့် ကုမ္ပဏီများအနက်မှ သတ်မှတ်ထားသော နည်းပညာပိုင်းဆိုင်ရာများ၊ စိစစ်၍ သတ်မှတ်ထားသော စည်းကမ်းချက်များနှင့်ပြည့်စုံပြီး ဘေးအန္တရာယ်ကင်းရှင်းရေးအတွက် လိုက်နာရမည့်စည်းကမ်းများကိုလည်း စနစ်တကျ တည်ဆောက်တပ်ဆင်မည်ဖြစ်ကြောင်းနှင့် လိုအပ်သောစာရွက်စာတမ်းအထောက်အထားများလည်း ပြည့်စုံကြောင်း စစ်ဆေးတွေ့ရှိရသည့် Power 95 Co.Ltd ၊ မြန်မာ့မဏ္ဍိုင်ကုမ္ပဏီ၊ ဦးစိုးစံဝင်း(ခ) ဦးပြည့်ဖြိုးဝင်းကုမ္ပဏီ၊Sunny Global Manufacing Co.Ltd ၊ Asia Mountain Mining Co.Ltd ကုမ္ပဏီ(၅)ခုတို့အား ရွေးချယ်အတည်ပြုထားရှိခဲ့ပါသည်။

၅။ အဆိုပါ ရွေးချယ်ထားရှိသည့် အသေးစားရေနံချက်လုပ်ငန်း (Mini Refinery)ဆောင်ရွက်မည့် ကုမ္ပဏီ(၅)ခု နှင့် မီးပိုဆောင်သုံးဂက်စ်(LPG)စက်ရုံတည်ထောင်လိုသည့် ပါရမီစွမ်းအင်ကုမ္ပဏီတို့အား လုပ်ငန်းဆောင်ရွက်ရန် မြေနေရာအဖြစ် Power 95 Co.Ltd အား(၁၅)ဧက၊မြန်မာ့မဏ္ဍိုင် ကုမ္ပဏီအား (၁၅)ဧက၊ ဦးပြည့်ဖြိုးဝင်း(ခ) ဦးစိုးစံဝင်းကုမ္ပဏီ အား(၁၀)ဧက၊ Sunny Global Manufacing Co.Ltd အား(၁၀)၊ Asia Mountain Mining Co.Ltd အား(၁၀)ဧက ၊ ပါရမီစွမ်းအင်ကုမ္ပဏီအား (၂၀)ဧကတို့ ချထားဆောင်ရွက်ပေးရန် မကွေးတိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၂၇/၂၀၁၉) ဆုံးဖြတ်ချက်အပိုဒ်(၉၅)အရ အတည်ပြုသတ်မှတ်ချထားပေးခဲ့ပါသည်။

၆။ အသေးစားရေနံချက်လုပ်ငန်း (Mini Refinery)များတွင် အသုံးပြုမည့် စက်မှုလုပ်ငန်းသုံး ရေရရှိရေးကိစ္စနှင့်ပတ်သက်၍ ပခုက္ကူခရိုင်အတွင်းရှိ ကြီးရွာလျှပ်စစ်မြစ်ရေတင်အဆင့်(၄) (PS-4) အထက်မြောင်းမကြီးအတွင်းမှရေကို ရေနံချက်စက်ရုံများဧရိယာသို့ စုပ်တင်မောင်းပို့ပြီး အသုံးပြုရန်အတွက် ခန့်မှန်းကုန်ကျငွေကျပ်(၁,၇၀၀,၂၈၂,၈၀၀)(ကျပ် တစ်သောင်းခုနစ်ထောင့် နှစ်သိန်းရှစ်သောင်းနှစ်ထောင့်ရှစ် ရာတိတိ)ကုန်ကျမည်ဖြစ်ကြောင်း မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့ လုပ်ငန်းမှ တွက်ချက်တင်ပြထားပါသည်။ စက်ရုံအဝင်/အထွက်လမ်းနှင့် စက်ရုံပတ်လမ်းများအတွက် မြို့တိုးချဲ့ဆောက်လုပ်ရေး လုပ်ငန်းမှကျပ်(၃၂၄)သိန်းဖြင့်(၃၁.၅.၂၀၂၀)ရက်နေ့တွင် လုပ်ငန်းများအပြီး ဆောင်ရွက်ပေးသွားမည် ဖြစ်ရာပေးသွင်းရမည့်ငွေများကို ကုမ္ပဏီများမှ(၅)ရစ်ခွဲ၍ပေးသွင်းရမည်

ပြန်စကြာဝင်း ရေနံချက်သို့ တည်ဆောက်မည့် ဒါရိုက်တာများနှင့် မြတ်နိုးသူဆောက်လုပ်ရေးလုပ်ငန်းမှ မန်နေဂျာတို့မှ (၂၄-၁၂-၂၀၁၉)ရက်နေ့တွင် စာချုပ်ချုပ်ဆိုခဲ့ပြီး၊ လျှပ်စစ်သွယ်တန်းဖြတ်ဆက်နိုင်ရေး အတွက်လည်းကုမ္ပဏီများမှ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်းသို့ လျှောက်ထားဆောင်ရွက်ခဲ့ သဖြင့် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ လုပ်ငန်းဆောင်ရွက်နိုင်ရေးခွင့်ပြုချက်တောင်းခံ ဆောင်ရွက် သွားမည်ဖြစ်ပါသည်။

၄။ မကွေးတိုင်းဒေသကြီး၊ ပခုက္ကူခရိုင်၊ ပခုက္ကူမြို့နယ်၊ ချောက်ကန်ကျေးရွာအုပ်စုအတွင်း အသေးစားရေနံချက်လုပ်ငန်း (Mini Refinery)စက်ရုံများ တည်ထောင်နိုင်ရေးနှင့်ပတ်သက်၍ မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ဆောင်ရွက်ထားရှိမှုအခြေအနေအား သိရှိလမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ပူးတွဲ၊ (၁) ရေနံချက်စက်ရုံမြေနေရာချထားပေးရေးကော်မတီဖွဲ့စည်းထားရှိမှု (၁)စုံ

(၂) ရေနံချက်စက်ရုံမြေနေရာနှင့်ပတ်သက်သည့်မြေပုံများ (၁)စုံ

ဝန်ကြီးချုပ်

(မြင့်ဇော်၊ သယံဇာတ၊ သဘာဝပတ်ဝန်းကျင်၊လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီး)

မိတ္တူကို

လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊နေပြည်တော်

လှည့်လည်စာတွဲ

ရုံးလက်ခံ